ပုံစံ(မနသ-၂)

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ်၊ မနသ- ၅၇၆ /၂၀၀၃။ ၂၀၀၃ ခုနှစ်၊ ဇန်နဝါရီ လ ၂၈ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ဦးတင့်လွင်(ခ)ချန်းချန်း

(ခ) အဘအမည် ဦးစိန်မြင့်

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၁/မကန(နိုင်)၀၀၀၄၃၁

(ဃ) နေရပ်လိပ်စာ အမှတ်-၅၉(အေ)၊ ဗိုလ်ရာသွန့်လမ်း၊ ဒဂုံမြို့နယ်၊ ရန်ကုန်မြို့

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း မြန်မာအက်ပရယ်(လ်)ကုမ္ပဏီ လီမိတက် (Myanmar Apparel Co., Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား CMP စနစ်ဖြင့်အထည်ချုပ်လုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) အမှတ်၊ ၃၅/၃၆(အေ)၊ ဇန်းမေဒ် အတွင်း ဝန်လမ်း၊ စက်မှုဇုန်(၃)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်မြို့

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) (၄၀.၅၁) သန်း (ကျပ်လေးဆယ်သန်းနှင့်ငါးသိန်း တစ်သောင်းခန့်)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

## အမိန့် ကြော်ငြာစာအမှတ်၊ ၁၅ /၂၀၀၃ (မနသ)

ရန်ကုန်မြို့၊ ၁၃၆၄ ခုနှစ်၊ ပြာသိုလပြည့်ကျော် ၁ ရက်

(၂၀၀၃ ခုနှစ်၊ ဇန်နဝါရီလ ၁၇ ရက်)

၁။ မြန်မာ ကုမ္ပဏီဖြစ်သော မြန်မာ အက်ပရယ်(လ်) ကုမ္ပဏီ လီမိတက် (Myanmar Apparel Co., Ltd) မှ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနထံမှ ဦးတင့်လွင်၊ ဦးရှီးဆွေတို့ အမည်ဖြင့် အသုံးပြုခွင့်ရရှိထားသော ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်(၃)၊ ဗန်းမော် အတွင်းဝန်လမ်း၊ မြေကွက်အမှတ်(၃၅/၃၆-အေ)ရှိ မြေ(၂.၇၃၃)ဧက (၁၁၀၆၀.၀၇ စတုရန်းမီတာ)ပေါ်တွင် ဆောင်ရွက်လျက်ရှိသော CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် တင်ပြလာပါသည်။ ယင်းလုပ်ငန်းမှာ မူလက ကော်မရှင် ခွင့်ပြုမိန့်ဖြင့် မဟုတ်ပဲ အထည်ချုပ် လုပ်ငန်း ဆောင်ရွက်လျက်ရှိပါသည်။ ယခုအခါ CMP လက်ခစား လုပ်ငန်းများ စိစစ်ရေး ကော်မတီမှတဆင့် စိစစ်ပြီး တင်ပြလာပါ၍ (၂၀-၁၁-၂၀၀၂) နေ့တွင် ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၃၈/၂၀၀၂) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ကော်မရှင်မှ မူအားဖြင့် သဘောတူညီခဲ့ပြီး (၁၂-၁၂-၂၀၀၂) နေ့ တွင် ကျင်းပပြုလုပ်ခဲ့သည့် ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၃၁/၂၀၀၂) အစည်းအဝေးသို့ ဆက်လက်တင်ပြခဲ့ ပါသည်။ ယင်းအစည်းအဝေးမှ သဘောတူညီချက်အရ (၂-၁-၂၀၀၃)နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၁/၂၀၀၃) အစည်းအဝေးသို့ တင်ပြခဲ့ရာ ယင်းအစည်းအဝေးမှ သဘောတူ ကြောင်းဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံ သားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် မြန်မာ အက်ပရယ်(လ်) ကုမ္ပဏီ လီမိတက် (Myanmar Apparel Co., Ltd) အား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း ဆက်လက်ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၅၇၆/၂၀၀၃ ကို ထုတ်ပေးလိုက်သည်။

၂။ မြန်မာ အက်ပရယ်(လ်) ကုမ္ပဏီ လီမိတက် (Myanmar Apparel Co., Ltd) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ တရားဝင် ခွင့်ပြုသည့် (၁၈-၁-၂၀၀၃)နေ့မှ အစပြု၍ တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များနှင့်အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန် လိုက်သည်။

(က) ဥပဒေပုဒ်မ ၁၃(ခ)အရ လုပ်ငန်းက နိုင်ငံခြားသို့ တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့် ရရှိသည့် အမြတ်ငွေအပေါ်တွင် (၅၀) ရာခိုင်နှုန်းအထိ ကာလအကန့်အသတ်ဖြင့် ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် (၃)နှစ်ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထား ရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ဂ)အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့်နှုန်းအထိ ပြည်တွင်း ပြည်ပ ဝင်ငွေတိုးတက်မှုရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန်သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်အခါ လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက် နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(စ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်နိုင်မှု အခြေအနေကိုဖော်ပြလျက် ဤကော်မရှင်သို့တင်ပြလျှောက်ထား ရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(ဆ)အရ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ်တန်ဖိုးလျော့ငွေ ကို သတ်မှတ် သည့် နှုန်း အတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နှုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့ နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ (၃)နှစ်အတွက် ကုန်ထုတ်လုပ်ရန် ပြည်ပမှတင်သွင်းသည့် လုပ်ငန်းသုံးပစ္စည်းများ အပေါ်တွင် အကောက်ခွန်နှင့်အခြားပြည်တွင်းအခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(စ) ဥပဒေပုဒ်မ ၁၃(ည)အရ ထုတ်လုပ်မည့် ကုန်ပစ္စည်းများကို ပြည်ပသို့တင်ပို့ရောင်းချမှုအပေါ် ကုန်သွယ် လုပ်ငန်းခွန် ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃ (ဈ) အရ ပြည်ပမှ တင်သွင်းသည့် လုပ်ငန်းသုံးပစ္စည်းများနှင့် ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာ ဆောင်ရွက် ရမည်။

(က) ပြည်ပမှတင်သွင်းမည့် ပစ္စည်းများအတွက် နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း (Source of Payments for Import) ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့်စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေး ကိုယ်စားလှယ်၏ စစ်ဆေးပြီးကြောင်း အထောက်အထား (Inspection Certificate) ဖြင့်တင်သွင်းမည့် ပစ္စည်းအမျိုးအစား စာရင်း (Invoice and Packing List) များကို နိုင်ငံခြား မတည်ငွေရင်း တန်ဖိုး သတ်မှတ်ရေးအဖွဲ့ငယ်သို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

၄။ မြန်မာ အက်ပရယ်(လ်) ကုမ္ပဏီ လီမိတက် (Myanmar Apparel Co., Ltd) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှုနှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည် မှန်းချက်များ အဖြစ်ထားရှိဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၅။ မြန်မာ အက်ပရယ်(လ်) ကုမ္ပဏီ လီမိတက် (Myanmar Apparel Co., Ltd) သည် လုပ်ငန်း ဆောင်ရွက်မှုအတွက် နိုင်ငံခြားငွေဖြင့် ရရှိသော အမှန်တကယ် ချုပ်ခရငွေများကို မြန်မာ့ နိုင်ငံခြား ကုန်သွယ်မှုဘဏ်/မြန်မာ့ ရင်းနှီးမြှုပ်နှံမှု နှင့် ကူးသန်းရောင်းဝယ်ရေးဘဏ်ရှိ မိမိ၏ ငွေစာရင်းသို့ မပျက်မကွက် ပေးသွင်းစေရမည်။ အလုပ်သမားများအတွက် လုပ်အားခပေးရန် အမှန်တကယ် ချုပ်ခရငွေ (နိုင်ငံခြားငွေ)များကို သတ်မှတ်ခွင့်ပြုထားသည့် MONEY CHANGER များတွင် FEC လဲလှယ်ပြီး မိမိတို့၏ အလုပ်သမားများအား လုပ်ခလစာများပေးရမည်။

၆။ မြန်မာ အက်ပရယ်(လ်) ကုမ္ပဏီ လီမိတက် (Myanmar Apparel Co., Ltd) သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့် ပတ် သက်၍ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၈။ မြန်မာ အက်ပရယ်(လ်) ကုမ္ပဏီ လီမိတက် (Myanmar Apparel Co., Ltd) မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံး လုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ပါ သတ်မှတ်ချက်များနှင့်အညီ ဤကော်မရှင်သို့ သီးခြား တင်ပြလျှောက်ထား ရမည်။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီး ဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၉။ မြန်မာ အက်ပရယ်(လ်) ကုမ္ပဏီ လီမိတက် (Myanmar Apparel Co., Ltd) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ၊ မဖြစ်ပေါ်လာစေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံ များကို ဝန်ခံဂတိပြုထားသည့်အတိုင်း စံနစ်တကျထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ဆောင်ရွက်ထားရှိမှု အခြေအနေ ကို ဤကော်မရှင်သို့ <u>မပျက်မကွက်</u> အစီရင်ခံရမည်။

၁၀။ မြန်မာ အက်ပရယ်(လ်) ကုမ္ပဏီ လီမိတက် (Myanmar Apparel Co., Ltd) သည် ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး ကော်မရှင်သို့ <u>မပျက်မကွက်</u> အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေ များကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၆)လ တစ်ကြိမ် (ဧပြီ/ အောက်တိုဘာလများ) <u>မပျက်မကွက်</u> ပုံမှန် ပေးပို့ အစီရင်ခံရမည်။

၁၁။ မြန်မာ အက်ပရယ်(လ်) ကုမ္ပဏီ လီမိတက် (Myanmar Apparel Co., Ltd) သည်အဆိုပြုလုပ်ငန်း စီးပွားဖြစ် စတင်ဆောင်ရွက်သည့်နေ့ကို (တစ်)လအတွင်း ဤကော်မရှင်သို့ <u>မပျက်မကွက်</u> အစီရင်ခံရမည်။

၁၂။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ် အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြု နိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

၁၃။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသ လိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်း နံပါတ်)တို့ ပြောင်းလဲမှုရှိတိုင်း ဤ ကော်မရှင်သို့ <u>မပျက်မကွက်</u> တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၄။ မြန်မာ အက်ပရယ်(လ်) ကုမ္ပဏီ လီမိတက် (Myanmar Apparel Co., Ltd) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာ ဆောင်ရွက်ခြင်း မရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည် ရုပ်သိမ်းသည်အထိ အရေးယူ ခြင်း ခံရမည်။

၁၅။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်ကို ပယ်ဖျက်ပြီး စက်ရုံ ပိတ်သိမ်းနိုင်ရေးအတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်း ဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၅(င)အရ နောက်တွင် မည်သည့်ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက်စာရင်း၌ ထည့်သွင်းခြင်း ခံရမည်။

( ဦးသောင်း )

ဥက္ကဋ္ဌ

စာအမှတ်၊ ရက-၁/မ-၈၃၄/၂၀၀၂ (၄၂၉၀-၈)

ရက်စွဲ၊ ၂၀၀၃ ခုနှစ်၊ ဇန်နဝါရီလ ၂၈ ရက်။

ဖြန့်ဝေခြင်း-

၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။

၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။

၃။ အစိုးရအဖွဲ့ရုံး။

၄။ ကာကွယ်ရေး ဝန်ကြီးဌာန၊ တပ်မတော် ထောက်လှမ်းရေး ဌာနချုပ်ရုံး၊ (ပြည်တွင်း ထောက်လှမ်းရေး ဌာန)။

၅။ အမှတ်(၁)စက်မှုဝန်ကြီးဌာန။

၆။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။

၇။ အလုပ်သမား ဝန်ကြီးဌာန။

၈။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။

၉။ ဆက်သွယ်ရေး၊ စာတိုက် နှင့် ကြေးနန်း ဝန်ကြီးဌာန။

၁၀။ ဆောက်လုပ်ရေး ဝန်ကြီးဌာန။

၁၁။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။

၁၂။ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။

၁၃။ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။

၁၄။ ဥက္ကဋ္ဌ၊ CMP လက်ခစားလုပ်ငန်းများ စိစစ်ရေးကော်မတီ။ (အမှတ်(၁) စက်မှုဝန်ကြီးဌာန)

၁၅။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။

၁၆။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။

၁၇။ ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန။

၁၈။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အထည်အလိပ်လုပ်ငန်း။

၁၉။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၂၀။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန။
၂၁။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၂၂။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ ဆက်သွယ်ရေး လုပ်ငန်း။
၂၃။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၂၄။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။
၂၅။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၂၆။ ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန။
၂၇။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန။
၂၈။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၂၉။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များနှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်းချုပ်။
၃၀။ အုပ်ချုပ်မှု ဒါရိုက်တာ၊ မြန်မာ အက်ပရယ်(လ်) ကုမ္ပဏီ လီမိတက် (Myanmar Apparel Co., Ltd)။

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ်(၃၂)၊နေပြည်တော်

Fax -95-67-406333

ဖုံး-၀၆၇-၄၀၆၃၃၄၊၄၀၆၀၇၅

စာအမှတ်၊ ရက-၆(က)/မ-၈၃၄ / ၂၀၀၇ (ꩻ ... handwritten)

ရက်စွဲ၊ ၂၀၀၇ ခုနှစ်၊ အောက်တိုဘာလ ၂၅ ရက်။

အကြောင်းအရာ။ ။ မြန်မာ အက်ပရယ်(လ်) ကုမ္ပဏီ လီမိတက် ( Myanmar Apparel Co.,Ltd) ၏ ရင်းနှီးမြှုပ်နှံသူ အမည်ပြောင်းလဲခွင့် ပြုပါရန် တင်ပြခြင်း။

ရည်ညွှန်းချက် ။ ။ မြန်မာ အက်ပရယ်(လ်) ကုမ္ပဏီ လီမိတက် ၏ (၁၂-၁၀-၂၀၀၇) ရက်စွဲပါစာ

၁။ ကုန်သွယ်မှု မူဝါဒကောင်စီ၏(၂၀-၉-၂၀၀၆)နေ့တွင် ကျင်းပသည့် (၃၂ /၂၀၀၆) ကြိမ်မြောက် အစည်းအဝေး ဆုံးဖြတ်ချက် အရ မြန်မာ အက်ပရယ်(လ်) ကုမ္ပဏီ လီမိတက် (Myanmar Apparel Co.,Ltd.) ၏ ရင်းနှီးမြှုပ်နှံသူအမည် ကို ကော်မရှင် ခွင့်ပြုမိန့်တွင် မူလ ခွင့်ပြုထားသည့် ဦးတင့်လွင် (ခ) ချန်းချန်း (၁/မကန(ဧည့်) ၀၀၀၄၃၁) (အဘ) ဦးစိန်မြင့် ( အစား ) ဒေါ်ဖူးလှ (ခ) ဒေါ်အေးအေးဝင်း(၉/မရန (နိုင်) ၀၃၇၇၇၆) (အဘ) ဦးဖန်ဂျိချိန် အမည်သို့ ပြောင်းလဲခွင့် ပြုလိုက်သည်။

၂။ အထက်ပါဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် မှ ထုတ်ပေးခဲ့သော(၁၈-၁-၂၀၀၃) ရက်စွဲပါ ခွင့်ပြုမိန့် အမှတ်၊ မနသ- ၅၇၆/၂၀၀၃ တွင် ရင်းနှီးမြှုပ်နှံသူအမည် ကို ဒေါ်ဖူးလှ (ခ) ဒေါ်အေးအေးဝင်း (၉/မရမ(နိုင်) ၀၃၇၇၇၆) (အဘ) ဦးဖန်ဂျိချိန် ဟု ပြင်ဆင်လိုက်သည်။

၃။ မြန်မာအက်ပရယ်(လ်) ကုမ္ပဏီလီမိတက် (Myanmar Apparel Co.,Ltd.) အနေဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် မှထုတ်ပြန်ထားသည့် (၁၈-၁-၂၀၀၃) ရက်စွဲပါ အမိန့် ကြော်ငြာစာ အမှတ်၊ ၁၅/၂၀၀၃ (မနသ)ပါ စည်းမျဉ်း စည်းကမ်းများ အတိုင်း လိုက်နာဆောင်ရွက် ရမည်။

အမိန့်အရ

သူရိန်ဇော်

( ဗိုလ်မှူးကြီး သူရိန်ဇော်)
အတွင်းရေးမှူး

မန်နေဂျင်း ဒါရိုက်တာ
မြန်မာ အက်ပရယ်(လ်) ကုမ္ပဏီလီမိတက်

<u>ဖြန့်ဝေခြင်း-</u>

၁။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ရုံး။
၃။ အစိုးရ အဖွဲ့ရုံး။
၄။ အမှတ်(၁) စက်မှု ဝန်ကြီးဌာန။
၅။ အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၆။ အလုပ်သမား ဝန်ကြီးဌာန။
၇။ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၈။ ဆက်သွယ်ရေး၊ စာတိုက်နှင့် ကြေးနန်း ဝန်ကြီးဌာန။
၉။ ဆောက်လုပ်ရေး ဝန်ကြီးဌာန။
၁၀။ ဘဏ္ဍာရေးနှင့် အခွန် ဝန်ကြီးဌာန။
၁၁။ လူဝင်မှု ကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။
၁၂။ အမှတ်(၂) လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန။
၁၃။ ပြည်ထဲရေးဝန်ကြီးဌာန။
၁၄။ ဥက္ကဋ္ဌ ၊ CMPလက်ခစားလုပ်ငန်းများကြီးကြပ်ရေးကော်မတီ။(အမှတ်(၁) စက်မှုဝန်ကြီးဌာန)
၁၅။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည် ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။
၁၆။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၇။ ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန။
၁၈။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အထည်အလိပ် လုပ်ငန်း။
၁၉။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၂၀။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန။
၂၁။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားရေး ဦးစီးဌာန။
၂၂။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း။
၂၃။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၂၄။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန။
၂၅။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၂၆။ ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့် အိုးအိမ် ဖွံ့ဖြိုးရေး ဦးစီးဌာန။
၂၇။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှု ကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန။
၂၈။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၂၉။ ဥက္ကဋ္ဌ၊ပြည်ထောင်စုမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်။

ပုံစံ(မနသ–၂)

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့် ပြုမိန့်

ခွင့်ပြုမိန့်အမှတ်၊ မနသ-၁၇၆/၂၀၀၃။ ၂၀၀၃ ခုနှစ်၊ ဇန်နဝါရီ လ ၁၈ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ~~ဦး တင့်လွင် (ခ) ချန်း ချန်း~~ ဒေါ်ဖူး ၅ (ခ) ဒေါ် အေး အေး ဝင်း

(ခ) အဘအမည် ~~ဦး စိန်မြင့်~~ ဦး ဖန်ဂျိုရှန်

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ~~၁/မကန(နိုင်)၀၀၀၄၃၁~~ ၉/မရမ(နိုင်)၀၃၇၇၇၆

(ဃ) နေရပ်လိပ်စာ အမှတ်-၁၉(အေ)၊ ဗိုလ်ရာသွန့်လမ်း၊ ဒဂုံမြို့နယ်
ရန်ကုန်မြို့

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း မြန်မာအက်ပရယ်(လ်)ကုမ္ပဏီ
လီမိတက် (Myanmar Apparel Co., Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား CMP စနစ်ဖြင့်အထည်ချုပ်လုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) အမှတ်၊ ၃၁/၃၆(အေ)၊ ဗန်းမော်
အတွင်း ဝန်လမ်း၊ စက်မှုဇုန်(၃)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်မြို့

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) (၄၀.၅၁) သန်း (ကျပ်လေးဆယ်သန်းနှင့်ငါးသိန်းတစ်သောင်းခန့်)

[signature]

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရင်းနှီးမြှုပ်နှံသူ ... ကို (၂၀.၉.၂၀၀၆) ... ပြောင်းလဲခွင့်ပြုသည့် ကုန်သွယ်မှု ... ဒါရိုက်တာ အဖွဲ့၏ ... ၂/၂၀၀၆) ... စည်းအဝေး ... ဆုံးဖြတ်ချက်အရ ... ဆောင်သည်။ ... အမိန့်အရ ...
... ဦး ... ကြီးသူဂျိန်စော) ...
အတွင်းရေးမှူး

# ပြည်ထောင်စုမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက-၇(ခ)/မ-၁၆၂၆ /၂၀၀၆( ၁၀၄၇)
ရက်စွဲ၊ ၂၀၀၆ ခုနှစ် ၊ စက်တင်ဘာလ ၇ ရက်။

## ကုန်သွယ်မှုမူဝါဒကောင်စီသို့ တင်ပြသည့်
## အမှာစာ

အကြောင်းအရာ။ ။ Myanmar Apparel Co.,Ltd CMP (လုပ်ငန်းအဟောင်း) မှကမကထပြုလုပ်သူ အမည်ပြောင်းလဲခွင့် ပြုပါရန်တင်ပြခြင်း။

၁။ Myanmar Apparel Co.,Ltd CMP (လုပ်ငန်းအဟောင်း)ကိုအမှတ်(၃၅/၃၆-အေ)ဗန်းမော် အတွင်းဝန်လမ်း စက်မှုဇုန်(၃)၊ လှိုင်သာယာမြို့နယ် ၊ ရန်ကုန်တိုင်းတွင် CMP စနစ်ဖြင့် အထည်ချုပ် လုပ်ငန်း လုပ်ကိုင် ဆောင်ရွက်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် မှ ခွင့်ပြုမိန့် အမှတ်၊ မနသ ၅၇၆ /၂၀၀၃ (၁၈-၁-၂၀၀၃) ဖြင့်ခွင့်ပြုခဲ့ပါသည်။

၂။ ယင်းလုပ်ငန်း၏အဆိုပြုရင်းနှီးမြှုပ်နှံမှုမှာကျပ်(၄၀.၅၀၆)သန်းဖြစ်ပါသည်။ ၂၀၀၄- ၂၀၀၅ခုနှစ် ပထမ(၆)လပတ် လုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာတွင် ကျပ် (၄၀.၁၃၄) သန်း ထည့်ဝင်ပြီးကြောင်း ဖော်ပြ ထားပါသည်။

၃။ ဦးတင့်လွင်(ခ)ချန်းချန်းသည် (၁၁-၈-၂၀၀၅)နေ့တွင်မန်နေဂျင်း ဒါရိုက်တာအဖြစ်မှနုတ်ထွက် ပြီးဖြစ်ပါသဖြင့်လုပ်ငန်းကမကထ ပြုလုပ်သူအမည်ကို ခွင့်ပြုမိန့် တွင် မူလခွင့်ပြုထားသည့် ဦးတင့်လွင် (ခ) ချန်းချန်း (၁ /မကန (နိုင်) ၀၀၀၄၃၁) ၊ (အဘ) ဦးစိန်မြင့် အမည် မှ ဒေါ်ဖူးလှ (ခ) ဒေါ်အေးအေးဝင်း (၉ /မရန(နိုင်) ၀၃၇၇၇၆) (အဘ) ဦးဖန်ဂျိချိန် အမည်သို့ ပြောင်းလဲ ခွင့်ပြုပါရန် လျှောက်ထား လာပါသည်။ ယင်းကဲ့သို့ ပြောင်းလဲခြင်းအားရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာနတွင် ပုံစံ(၂၆) မှတ်ပုံတင်ပြီး ကြောင်းအထောက်အထား CRD (Certificate of Registration of Documents) မိတ္တူပူးတွဲ၍တင်ပြလာ ပါသည်။

၄။ ယင်းကုမ္ပဏီသည်စီးပွားဖြစ်လုပ်ငန်းကို(၁၈-၁-၂၀၀၃)နေ့တွင် စတင်ဆောင်ရွက်ခဲ့ပြီး အထည် ချုပ်စက်ရုံအား(၁-၁-၂၀၀၅) ခုနှစ်မှ (၃၁-၁၂-၂၀၀၅) နေ့အထိ ခေတ္တ ပိတ်ထား ခဲ့ပါသည်။ ယခုအခါ စက်ရုံ ပြန်လည်ဖွင့်လှစ်နိုင်ရန် ဥရောပမှ အမှာစာများ ရရှိရန် ကြိုးစားလျက်ရှိပြီး ( ၃၁-၆-၂၀၀၆ ) နေ့ အထိ ခေတ္တ ထပ်မံပိတ်ထားမည်ဖြစ်ကြောင်း(၄-၄-၂၀၀၆)နေ့စွဲဖြင့်တင်ပြခဲ့ပါသည်။ Myanmar Apparel Co.,Ltd စက်ရုံ သည်(၂၈-၄-၂၀၀၆)နေ့ည(၁၀)နာရီတွင် လေဆင်နှာမောင်းကျရောက်ခြင်းခံရသဖြင့် (၃၁-၁၂-၂၀၀၆)နေ့အထိ ပိတ်ထားမည်ဖြစ်ကြောင်း(၁၅-၅-၂၀၀၆)နေ့စွဲဖြင့်ကော်မရှင်သို့ထပ်မံတင်ပြလာပါသည်။ CMP ချုပ်ခဘဏ္ဍာ သို့ ဝင်ငွေမှာ ၂၀၀၃ ခုနှစ် စက်တင်ဘာလမှ ၂၀၀၄ ခုနှစ်ဒီဇင်ဘာလအထိအမေရိကန်ဒေါ်လာ(၃၂၉၈၂)ဖြစ်ပြီး၁၀% အခွန်ဖြတ်တောက်ငွေမှာ အမေရိကန်ဒေါ်လာ(၃၂၉၈)ရှိကြောင်းစိစစ်တွေ့ရှိရပါသည်။

၅။ Myanmar Apparel Co.,Ltd CMP (လုပ်ငန်းအဟောင်း) ကမကထ ပြုလုပ်သူအမည်ကို ဦးတင့်လွင် (ခ)ချန်းချန်း (၁ /မကန (နိုင်) ၀၀၀၄၃၁) ၊ (အဘ) ဦးစိန်မြင့် အမည် မှ ဒေါ်ဖူးလု (ခ) ဒေါ်အေးအေးဝင်း ( ၉ / မရန (နိုင်) ၀၃၇၇၇၆) (အဘ) ဦးဖန်ကျိချိန် အမည်သို့ ပြောင်းလဲ ခွင့်ပြုပါရန် လျှောက်ထား လာခြင်းကို ( ၂၂-၂-၂၀၀၆ ) နေ့တွင် ကျင်းပသော ကော်မရှင်၏ ( ၇ /၂၀၀၆) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ ၊ ကုန်သွယ်မှုမူဝါဒကောင်စီသို့ ပြင်ပြ လမ်းညွှန်မှုခံယူရန် ဆုံးဖြတ်ချက် အရ ကင်ပြခြင်းဖြစ်ပါသည်။

၆။ ဆုံးဖြတ်ရန်အချက်

- Myanmar Apparel Co.,Ltd CMP (လုပ်ငန်းအဟောင်း) မှ ကမကထ ပြုသူအမည်ကို ဦးတင့်လွင် (ခ)ချန်းချန်း (၁ /မကန (နိုင်) ၀၀၀၄၃၁) ၊ (အဘ) ဦးစိန်မြင့် အမည်မှ ဒေါ်ဖူးလု (ခ) ဒေါ်အေးအေးဝင်း ( ၉ / မရန (နိုင်) ၀၃၇၇၇၆) (အဘ) ဦးဖန်ကျိချိန် အမည်သို့ ပြောင်းရန်သဘောတူ-မတူ ။

၇။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ထောက်ခံချက်

ကုန်သွယ်မှုမူဝါဒကောင်စီ၏ ဆုံးဖြတ်ချက်ကိုနာခံပါမည်။

(ဦးသောင်း)
ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ဝန်ကြီး၊ သိပ္ပံနှင့်နည်းပညာဝန်ကြီးဌာန။
ဝန်ကြီး၊ အလုပ်သမားဝန်ကြီးဌာန။

ကုန်သွယ်မှုမူဝါဒကောင်စီ။

MYANMAR APPAREL CO., LTD

35/36, Bamaw Ah Twin Wun Street, City of Industry Zone (3), Hlaing Tharyar Township, Yangon, Myanmar.
Tel : (95-1) 685152, 685153, 244355 Fax : (95-1) 685082
E - Mail : pearlgmt@mptmail.net.mm


သို့

ဥက္ကဌ
မြန်မာ့ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
ရန်ကုန်မြို့ ။

နေ့စွဲ ။ ။ ၂၂ . ၈ . ၂၀၀၅

အကြောင်းအရာ ။ ။ကမကထ ပြုလုပ်သူ ပြောင်းလဲခွင့်ပြုပါရန် တင်ပြခြင်း ၊

ရည်ညွှန်းချက် ။ ။မြန်မာ့ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ ၁၈ .၁ . ၂၀၀၃ နေ့စွဲပါ ပါမစ်အမှတ်မနသ ၅၇၆/ ၂၀၀၃-၂

၁။ အထက်ရည်ညွှန်းပါ ပါမစ်အရ Myanmar Apparel Co., Ltd (Garment Factory) ကို မူလ ကမကထ ပြုလုပ်သူမှာ Managing Director ဖြစ်သူ ချန်းချန်း(ခ) ဦးတင့်လွင် ဖြစ်ပါသည်။ယခုအခါချန်းချန်း (ခ) ဦးတင့်လွင်သည် ကိုယ်ရေးကိုယ်တာဝန်များပြားခြင်းကြောင့် ဇနီးဖြစ်သူ ဒေါ်ဖူးလှ(ခ)ဒေါ် အေးအေးဝင်းသို့ လွှဲပြောင်းရန် တင်ပြခြင်းဖြစ်ပါသည်။

၂။ ယခုအခါ ပူးတွဲပါ အစုရှယ်ယာလွှဲပြောင်းမှု နှင့် ဒါရိုက်တာများ ခန့်ထားမှု ဆိုင်ရာ အထောက်အထားများအရ မူလ လုပ်ငန်း၏ ကမကထပြုလုပ်သူချန်းချန်း(ခ)ဦးတင့်လွင် မှ ဒေါ်ဖူးလှ(ခ)ဒေါ် အေးအေးဝင်း သို့ပြောင်းလဲခွင့်ပြုပါရန် အောက်ပါ အထောက် အထားများပူးတွဲ တင်ပြအပ်ပါသည်။

၁။ မြန်မာ့ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ပါမစ် မိတ္တူ
၂။ Form 26 & Share Transfer မိတ္တူ
၃။ ကမကထပြုလုပ်သူလွှဲပြောင်းခြင်းဆိုင်ရာသဘောတူညီချက်

လေးစားစွာဖြင့်

MYANMAR APPAREL CO., LTD.

TINT LWIN
MANAGING DIRECTOR

MYANMAR APPAREL CO., LTD
35/36, Bamaw Ah Twin Wun Street, City of Industry Zone (3), Hlaing Tharyar Township, Yangon, Myanmar.
Tel : (95-1) 685152, 685153, 244355 Fax : (95-1) 685082
E - Mail : pearlgmt@mptmail.net.mm

# ကမကထပြုလုပ်သူလွှဲပြောင်းခြင်းဆိုင်ရာသဘောတူညီချက်

Myanmar Apparel Co., Ltd (Garment Factory) ၏ယခင်အစုရှယ်ယာရှင်များဖြစ်သော ချန်းချန်း(၁) ဦးတင့်လွင် (ယခင် မန်နေဂျင်းဒါရိုက်တာ၊အစုရှယ်ယာရှင်) သည် Myanmar Apparel Co., Ltd (Garment Factory) ၏ အစုရှယ်ယာပေါင်း (၅၀၀၀) အား ဒေါ်ဖူးလှ (၁)ဒေါ်အေးအေးဝင်း အား လွှဲပြောင်းပေး အပ်ခဲ့ပြီးဖြစ်ပါသဖြင့် လက်ရှိ Myanmar Apparel Co., Ltd (Garment Factory) ၏ကမကထပြုလုပ်သူအဖြစ်ပြောင်းလဲပေးပါရန် နှစ်ဦးနှစ်ဖက်သဘော တူညီကြပါသည်။

လွှဲပြောင်းပေးသူ
ချန်းချန်း(၁)ဦးတင့်လွင်
မန်နေဂျင်းဒါရိုက်တာ
Myanmar Apparel Co., Ltd
(Garment Factory)

လွှဲပြောင်းယူမည့်သူ
ဒေါ်ဖူးလှ (၁)
ဒေါ်အေးအေးဝင်း
မန်နေဂျင်းဒါရိုက်တာ
Myanmar Apparel Co., Ltd
(Garment Factory)

MYANMAR APPAREL CO., LTD
35/36, Bamaw Ah Twin Wun Street, City of Industry Zone (3), Hlaing Tharyar Township, Yangon, Myanmar.
Tel : (95-1) 685152, 685153, 244355 Fax : (95-1) 685082
E - Mail : pearlgmt@mptmail.net.mm

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

စာအမှတ်။ ။MACL-0105/06
ရက်စွဲ ။ ။၂၀၀၆၊မေလ၊ ၁၅ရက်။

အကြောင်းအရာ။ ။စက်ရုံတည်နေရာ ပြောင်းလဲ၍ထပ်မံပြီးခေတ္တယာယီပိတ်ထားကြောင်း အစီရင်ခံခြင်း။

ရည်ညွှန်းချက်။ ။Myanmar Apparel Co.,Ltd ၏ (၁၅.၁၂.၀၅) နေ့စွဲပါ စာအမှတ် MACL 0512009.

Myanmar Apparel Co.,Ltd သည်အမှတ် ၃၅/၃၆(က) ဗန်းမော်အတွင်းဝန်လမ်း စက်မှုဇုံ(၃) လှိုင်သာယာမြို့နယ် တွင် CMP စနစ်နှင့် လုပ်ငန်း ဆောင်ရွက်နေသော အထည်ချုပ်စက်ရုံဖြစ်ပါသည်။

၂၈.၄.၂၀၀၆နေ့ ည (၁၀)နာရီ အချိန်တွင် လှိုင်သာယာမြို့နယ်၌ လေဆင်နှာမောင်းကျရောက် သဖြင့် Myanmar Apparel Co.,Ltd သည် ပူးတွဲဓါတ်ပုံတွင်ပါရှိသည့် အတိုင်း လုံးဝပြိုကျပျက်ဆီး သွားခဲ့ပါသည်။ထို့အပြင် Myanmar Apparel Co.,Ltd သည် ပူးတွဲ ရည်ညွှန်းပါစာနှင့် စက်ရုံအားခေတ္တယာယီ (၃၁.၆.၀၆) အထိပိတ်ထားကြောင်း အကြောင်းကြားထားခဲ့ပါသည်။

သို့ပါ၍ Myanmar Apparel Co.,Ltd အား အမှတ် (၁၅၆)၊ ကျန်စစ်သားလမ်း စက်မှုဇုံ(၄) လှိုင်သာယာမြို့နယ်ရှိ အဆောက်အဦးအမှတ်(၂)သို့ (၉.၅.၀၆)မှစတင်၍လိပ်စာ ပြောင်းလဲပြီး (၃၁.၁၂.၀၆) အထိ ခေတ္တ ယာယီ ပိတ်ထားမည်ဖြစ်ပါသည်။မူလနေရာဟောင်းကို အမြန်ဆုံး ပြန်လည်ပြုပြင်တည်ဆောက်ပြီး ပါကပြန်လည်ဖွင့်လှစ်ပါမည် ဖြစ်ကြောင်း လေးစားစွာ အသိပေး အကြောင်းကြားအပ်ပါသည်။

လေးစားစွာဖြင့်

[signature]

**MYANMAR APPAREL CO., LTD**
35/36, Bamaw Ah Twin Wun Street, City of Industry Zone (3), Hlaing Tharyar Township, Yangon, Myanmar.
Tel : (95-1) 685152, 685153, 244355 Fax : (95-1) 685082
E - Mail : pearlgmt@mptmail.net.mm

မိတ္တူကို

(၁) ဥက္ကဋ္ဌ၊ မြို့နယ်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ၊ လှိုင်သာယာမြို့နယ်
(၂) ခရိုင်ဦးစီးအရာရှိ အလုပ်ရုံနှင့်အလုပ်သမားဥပဒေစစ်ဆေးရေးဦးစီးဌာန
(၃) ဦးစီးအရာရှိ အလုပ်သမားညှိနှိုင်းကြားရေးဦးစီးဌာန လှိုင်သာယာမြို့နယ်
(၄) မန်နေဂျာ၊ လူမှုဖူလုံရေးရုံး လှိုင်သာယာမြို့နယ်
(၅) ဥက္ကဋ္ဌ စက်မှုဇုံစီမံခန့်ခွဲရေး ကော်မတီ
(၆) မြို့နယ်ရဲတပ်ဖွဲ့မှူးရုံး ၊ လှိုင်သာယာမြို့နယ်
(၇) မြို့နယ်လျှပ်စစ်အင်ဂျင်နီယာရုံး ၊ လှိုင်သာယာမြို့နယ်
(၈) ဒေသန္တရ စက်မှုကြီးကြပ်ရေးနှင့် လုပ်ငန်းစစ်ဆေးမှု ညွှန်ကြားရေးဦးစီးဌာန ရန်ကုန်တိုင်း
(၉) စက်မှုကြီးကြပ်ရေးနှင့် လျှပ်စစ်စစ်ဆေးရေးဦးစီးဌာန ရန်ကုန်တိုင်း
(၁၀)မြို့နယ်စည်ပင်သာယာရေး ကော်မတီ လှိုင်သာယာမြို့နယ်

**MYANMAR APPAREL CO., LTD.**
35/36, Bamaw Ah Twin Wun Street, City of Industry Zone (3), Hlaing Tharyar Township, Yangon, Myanmar.
Tel : (95-1) 685152, 685153, 244355 Fax : (95-1) 685082
E-mail : pearlgmt@mptmail.net.mm

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

နေ့စွဲ။ ၂၀.၁၂.၂၀၀၄
စာအမှတ်။ MACL 1201/04

အကြောင်းအရာ။ ။ **စက်ရုံခေတ္တယာယီပိတ်ထားခြင်းအတွက်အကြောင်းကြားခြင်း။**

**Myanmar Apparel Co., Ltd. (Garment Factory)**သည် CMPလုပ်ငန်းဟောင်းဖြစ်ပြီး MIC ခွင့်ပြုမိန့်အမှတ်-၅၇၆/၂၀၀၃(၁၈.၁.၀၃)နှင့် အမှတ်-၃၅/၃၆ဗန်းမော်အတွင်းဝန်လမ်း၊စက်မှုဇုံ(၃)၊ လှိုင်သာယာမြို့နယ်တွင် CMPစနစ်နှင့်အထည်ချုပ်လုပ်ငန်းကိုလုပ်ကိုင်လျက်ရှိပါသည်။

ကျွန်တော်၏စက်ရုံသည် ၂၀၀၄ခုနှစ်ဦးပိုင်းမှစ၍ အမှာစာရရှိမှု လွန်စွာကျဆင်းသွားခဲ့ပါသည်။ အမှာစာတိုးတက်ရရှိရန် ကာလအတန်ကြာကြိုးပမ်းခဲ့သော်လည်းအဆင်မပြေခဲ့ပါ။ ယခုအခါ ၂၀၀၄ခုနှစ် ဇူလိုင်လမှစ၍ ဒီဇင်ဘာလအထိ အမှာစာလုံးဝမရရှိခဲ့သောကြောင့် အလုပ်သမားလစာနှင့်အခြားပုံသေဝန်ဆောင်စရိတ်များကိုကျခံရန်အခက်အခဲရှိလာပြီဖြစ်ပါသည်။သို့ပါ၍ **Myanmar Apparel Co., Ltd. (Garment Factory)** အား (၁.၁.၀၅) မှစ၍ (၃၁.၁၂.၀၅) အထိ ခေတ္တပိတ်ထားမည်ဖြစ်ပါသည်။ နောင်အမှာစာရရှိပါကစက်ရုံပြန်လည်ဖွင့်လှစ်ပါမည်ဖြစ်ကြောင်းလေးစားစွာအကြောင်းကြားအပ်ပါသည်။

လေးစားစွာဖြင့်

MYANMAR APPAREL CO., LTD.

..........................................
TINT LWIN
**MANAGING DIRECTOR**

မိတ္တူကို
(၁) ဥက္ကဋ္ဌ၊မြို့နယ်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ၊လှိုင်သာယာမြို့နယ်။
(၂) ခရိုင်ဦးစီးအရာရှိ၊အလုပ်ရုံနှင့်အလုပ်သမားဥပဒေစစ်ဆေးရေးဦးစီးဌာန။
(၃) ဦးစီးအရာရှိ၊အလုပ်သမားညွှန်ကြားရေးဦးစီးဌာန၊လှိုင်သာယာမြို့နယ်။
(၄) မန်နေဂျာ၊လူမှုဖူလုံရေးရုံး၊လှိုင်သာယာမြို့နယ်။
(၅) ဥက္ကဋ္ဌ၊စက်မှုဇုံစီမံခန့်ခွဲရေးကော်မတီ။
(၆) မြို့နယ်ရဲတပ်ဖွဲ့မှူး၊လှိုင်သာယာမြို့နယ်။
(၇) မြို့နယ်လျှပ်စစ်အင်ဂျင်နီယာရုံး၊လှိုင်သာယာမြို့နယ်။
(၈) ဒေသန္တရစက်မှုကြီးကြပ်ရေးနှင့်လုပ်ငန်းစစ်ဆေးမှုညွှန်ကြားရေးဦးစီးဌာန၊ရန်ကုန်တိုင်း။ 21/12/04

20.12.04

THE GOVERNMENT OF THE UNION OF MYANMAR
MINISTRY OF NATIONAL PLANNING AND ECONOMIC DEVELOPMENT
OFFICE OF THE REGISTRAR OF JOINT STOCK COMPANIES REGISTRATION
CERTIFICATE OF REGISTRATION OF DOCUMENTS

No. 302 of 1997-1998

IN THE MATTER OF MYANMAR APPAREL CO., LTD

I do hereby certify that persuant to the Myanmar Companies Act.

- List of directors made on 11-8-2005.
- Transfer of shares made on 17-8-2005.
(Transferred to Daw Aye Aye Win (a) Daw Phoo Hla from U Chan Chan (a) U Tint Lwin for 5,000 shares.)

Has/Have been this day duly filed and registered in this office

Dated Yangon, this EIGHTEENTH day of OCTOBER

Two Thousand and FIVE.

**MEMORANDUM OF FEES PAID**

**Registering**

**For**..........................................................

Filing

| | | K. | P. |
|---|---|---|---|
| 1. | Memorandum of Association ......... ......... | | |
| 2. | Articles of Association ......... ......... | | |
| 3 | Notice of situation of registered office and changes therein ......... ......... | | |
| 4. | Return of allotments ......... ......... | | |
| 5. | Annual list of members and summary of share Capital ......... ......... | | |
| 6. | Balance sheet ......... ......... | | |
| 7. | Special or extraordinary resolution ......... ......... | | |
| 8. | Particulars of mortgages and charges ......... ......... | | |
| 9. | Copy of Register of Directors, Managers, or Managing Agents and changes therein ......... ......... | 75 | 00 |
| 10. | Return of persons authorized to accept services of process and changes therein ......... ......... | | |
| 11. | Transfer of shares. ......... ......... ......... | 75 | 00 |
| | Total : | 150 | 00 |

for Registrar

(Win Hlaing - ..............Assistant Registrar)

OK.30106.

MYANMAR APPAREL CO., LTD
35/36, Bamaw Ah Twin Wun Street, City of Industry Zone (3), Hlaing Tharyar Township, Yangon, Myanmar.
Tel : (95-1) 685152, 685153, 244355 , Fax : (95-1) 685082
E - Mail : pearlgmt@mptmail.net.mm

# ဒါရိုက်တာအဖွဲ့အစည်းအဝေးမှတ်တမ်း

အစည်းအဝေးကျင်းပသည့်နေ့ ။ ။ ၁၁ .၈ .၂၀၀၅
အစည်းအဝေးကျင်းပသည့်အချိန် ။ ။ နံနက် ( ၁၀ း ၀၀ ) နာရီ
အစည်းအဝေးကျင်းပသည့်နေရာ ။ ။ ကုမ္ပဏီ ရုံးခန်း

<u>အစည်းအဝေးတက်ရောက်ကြသူများ</u>

(1) U Shi Swe
(2) U Saw Kyaw Linn
(3) Huang Yun Zhuang (a) Daw Sandar
(4) Daw Phoo Hla (a) Daw Aye Aye Win
(5) Chan Chan (a) U Tint Lwin

၁။ အစည်းအဝေးတွင် မန်နေဂျင်းဒါရိုက်တာ မှ ယခုအစည်းအဝေးခေါ်ယူရခြင်းကို ရှင်းလင်းတင်ပြပါသည်။ အစည်းအဝေးတွင် Chan Chan (a) U Tint Lwin သည် ကိုယ်ရေးကိုယ်တာတာဝန်များပြားခြင်းကြောင့် အစုရှင်နှင့်မန်နေဂျင်းဒါရိုက်တာ အဖြစ်မှ နုတ်ထွက်ခွင့်ပြုရန်၎င်း၏ အစုရှယ်ယာ အား Daw Phoo Hla (a) Daw Aye Aye Win သို့လွှဲပြောင်းရန် B.O.D အဖွဲ့အားအောက်ပါ အတိုင်းပြန် လည်ဖွဲ့စည်းရန် သဘောတူ ဆုံးဖြတ်ကြပါသည်။

ဆုံးဖြတ်ချက် (၁) အစုရှယ်ယာလွှဲပြောင်းခြင်း

| စဉ် | လွှဲပြောင်းပေးသူ | လက်ခံရရှိသူ | အစုရှယ်ယာအရေအတွက် |
|---|---|---|---|
| ၁။ | Chan Chan (a) U Tint Lwin | Daw Phoo Hla (a) Daw Aye Aye Win | 5000 |

ဆုံးဖြတ်ချက် (၂) ဒါရိုက်တာများအဖွဲ့ဖွဲ့စည်းခြင်း

| | |
|---|---|
| (1) Daw Phoo Hla (a) Daw Aye Aye Win | Managing Director |
| (2) U Shi Swe | Director |
| (3) Huang Yun Zhuang (a) Daw Sandar | Director |
| (4) U Saw Kyaw Linn | Manager |

၂။ အစု ရှယ်ယာလွှဲပြောင်းခြင်း၊ ဒါရိုက်တာအဖြစ်ခန့်အပ်ခြင်း၊ ဒါရိုက်တာနုတ်ထွက်ခြင်းတို့အတွက်အစုရှယ်ယာလွှဲပြောင်းခြင်း နှင့် ပုံစံ (၂၆)အား ကုမ္ပဏီများမှတ်ပုံတင်ရုံးသို့တင်ပြရန်ဆုံးဖြတ်ကြပါသည်။

၃။ အခြားဆွေးနွေးစရာ မရှိတော့သဖြင့် အစည်းအဝေးကို နေ့လည် (၁၂ း ၀၀ ) နာရီ တွင် ရုပ်သိမ်းလိုက်သည်။

လေးစားစွာဖြင့်

APPAREL CO., LTD.

လျှို့ဝှက်

# ပြည်ထောင်စု မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရက-၁/မ-၁၃၂၇/ ၂၀၀၂ ( ၃၉၁၉ )။
ရက်စွဲ၊ ၂၀၀၂ ခုနှစ်၊ ဒီဇင်ဘာလ ၂၆ ရက်။

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့ သို့ တင်ပြသည့်
အမှာစာ

အကြောင်းအရာ။ မြန်မာအက်ပရယ်(လ်) ကုမ္ပဏီ လီမိတက် မှ CMP စနစ်ဖြင့် အထည်ချုပ် လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်း ကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော မြန်မာ အက်ပရယ်(လ်) ကုမ္ပဏီ လီမိတက် (Myanmar Apparel Co., Ltd.) မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ ခွင့်ပြုမိန့် ရရှိရေးအတွက် CMP လက်ခစား လုပ်ငန်းများ စိစစ်ရေး ကော်မတီမှ စိစစ်ထောက်ခံ တင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို (၂၀-၁၁-၂၀၀၂)နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ (၃၈/၂၀၀၂) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ယင်းအစည်းအဝေးမှ လုပ်ငန်းဆောင်ရွက်ရန် မူအားဖြင့် သဘောတူပြီး၊ ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ ဆက်လက် တင်ပြရန် ဆုံးဖြတ်ချက်အရ (၁၂-၁၂-၂၀၀၂)နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် ကုန်သွယ်မှုမူဝါဒကောင်စီ၏ (၃၁/၂၀၀၂) အစည်းအဝေး သို့ တင်ပြခဲ့ပါသည်။ ယင်းအစည်းအဝေးမှ မူအားဖြင့် သဘောတူပြီး အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်အရ တင်ပြခြင်း ဖြစ်ပါသည်။ အဆိုပြုချက်ကို နောက်ဆက်တွဲ(၁) အဖြစ် ပေးပို့ထားပါသည်။

၂။ လုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ စုစုပေါင်း ကျပ် (၄၀.၅၀)သန်း ဖြစ်ပါသည်။ စက်ပစ္စည်း ကိရိယာများကို ပြည်တွင်းမှ ဝယ်ယူအသုံးပြုထားပါသည်။

၃။ ယင်းလုပ်ငန်းကို မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနထံမှ ဦးတင့်လွင်၊ ဦးရှိုးဆွေ အမည်တို့ဖြင့် အသုံးပြုခွင့် ရရှိထားသော မြေကွက်အမှတ် (၃၅/ ၃၆-အေ)၊ ဗန်းမော်အတွင်းဝန်လမ်း၊ စက်မှုဇုန်(၃)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းရှိ မြေ (၂.၇၃၃)ဧက (၁၁၀၆၀.၀၇ စတုရန်း မီတာ) ပေါ်တွင် အဆောက်အဦ ဘောက်ကုပ်၍ လုပ်ငန်း ဆောင်ရွက်လျက်ရှိပါသည်။

လျှို့ဝှက်

၄။ လုပ်ငန်းမှ ထုတ်လုပ်မှု၏ (၉၉) ရာခိုင်နှုန်းကို CMP စနစ်အရ ပြည်ပသို့ တင်ပို့မည်ဖြစ်ပြီး၊ ကျန် ပယ်ထည် Reject (၁) ရာခိုင်နှုန်းအား ပြည်တွင်းတွင် ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ်ရှိ ထုတ်လုပ်မှုများ မှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအမည် | ထုတ်လုပ်မှု (ဒါဇင်) |
|---|---|---|
| ၁။ | Jacket | ၃၀၀၀၀ |
| ၂။ | Pants (Long) | ၁၅၀၀၀ |

၅။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၅)နှစ်ဖြစ်ပြီး၊ အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ (၁၄.၀၆)ရာခိုင်နှုန်း ဖြစ်ပါသည်။

၆။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) ဝင်ငွေခွန် ကျပ် ၁.၆၀ သန်း
အမေရိကန်ဒေါ်လာ ၀.၀၆ သန်း

(ခ) ကုန်သွယ်လုပ်ငန်းခွန် ကျပ် ၁.၀၄ သန်း

၇။ လုပ်ငန်းတွင် ပြည်တွင်းမှ ဝန်ထမ်း(၅၉၇)ဦး နှင့် ပြည်ပမှ ဝန်ထမ်း (၃)ဦး ခန့်ထားမည် ဖြစ်ပါသည်။

၈။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် လျှပ်စစ်စွမ်းအားဝန်ကြီးဌာနသို့ သဘောထား တောင်းခံခဲ့ရာ မြန်မာ့လျှပ်စစ်ဓါတ်အားလုပ်ငန်းမှ အဆိုပါလုပ်ငန်းမှာ လုပ်ငန်းသစ် မဟုတ်ဘဲ လည်ပတ်နေသော စက်ရုံ ဖြစ်၍ လျှပ်စစ်ဓါတ်အား ရရှိသုံးစွဲလျက်ရှိပါကြောင်းနှင့် ဆက်လက်ဓါတ်အားပေးနိုင်ပါကြောင်း ပြန်ကြား လာပါသည်။

၉။ ယင်းလုပ်ငန်းနှင့် စပ်လျဉ်း၍ ပိုင်ဆိုင်မှု၊ ပတ်ဝန်းကျင်ထိန်းသိမ်းမှု၊ CMP ချုပ်ခရငွေများနှင့် ပတ် သက်၍ လမ်းညွှန်ချက်နှင့်အညီ လိုက်နာ ဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိများပြုထားပါသည်။

၁၀။ ကုမ္ပဏီ မှ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ (၁၂) နှင့် (၁၃) ပါ အခွန်ဆိုင်ရာ ကင်း လွတ် ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။

၁၁။ <u>ဆုံးဖြတ်ရန်အချက်။</u>

(က) မြန်မာအက်ပရယ်(လ်)ကုမ္ပဏီ လီမိတက် မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်းကို ခွင့်ပြုရန် သဘောတူ-မတူ။

(ခ) လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် သဘောတူပါက မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် သဘောတူ-မတူ။

၃၃၄၃
၈/၁၁

R. ၇၇၇
၇/၁၁

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
လျှပ်စစ်စွမ်းအားဝန်ကြီးဌာန
# မြန်မာ့လျှပ်စစ်ဓာတ်အားလုပ်ငန်း

စာအမှတ်၊ ၃၈၂/ အသဖ(ထ)ရင်းနှီးမြှုပ်နှံမှု/၂၀၀၂
ရက်စွဲ ၊ ၂၀၀၂ ခုနှစ်၊ နိုဝင်ဘာလ ( [illegible] ) ရက်

အကြောင်းအရာ။ ။ <u>သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ။</u>

ရည်ညွှန်းချက် ။ ။မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃၀-၁၀-၂၀၀၂နေ့စွဲပါ စာအမှတ် [illegible] -သဘောထား/၂၀၀၂(၃၂၄၇-င)။

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေအရ လုပ်ငန်းဆောင်ရွက်ခွင့် အဆိုပြုချက် ( ၁၂ ) ခုနှ[illegible] ၌ ရည်ညွှန်းတဖြင့် လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၏ သဘောထားမှတ်ချက် တောင်းခံလာပါသည်။

၂။ အမှတ်စဉ် (၁) မှ ( ၁၁ ) အထိလုပ်ငန်း ( ၁၁ ) ခုမှာ လုပ်ငန်းသစ်များ မဟုတ်ဘဲ၊ တည်ဆောက်ပြီး လည်ပတ်နေသော စက်ရုံများဖြစ်၍ လျှပ်စစ်ဓာတ်အား ရရှိသုံးစွဲလျက်ရှိပါသည်။ ဆက်လက်ဓာတ်အားပေးနိုင်ပါသည်။

အမှတ်စဉ်(၁၂)လုပ်ငန်းသစ်အားလည်း ဓာတ်အားဆက်သွယ်ပေးနိုင်ပါသည်။

<u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်</u>

ဦးဆောင်ညွှန်ကြားရေးမှူး ( [illegible] )
(ဒေါက်တာစန်းဦး-အင်ဂျင်နီယာချုပ် )

# ပြည်ထောင်စု မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရကာ-၁/မ-၁၃၂၇/၂၀၀၂ (၃၅၈၄)။
ရက်စွဲ၊ ၂၀၀၂ ခုနှစ်၊ နိုဝင်ဘာလ ၂၇ ရက်။

## ကုန်သွယ်မှု မူဝါဒကောင်စီသို့ တင်ပြသည့် အမှာစာ

အကြောင်းအရာ။ မြန်မာအက်ပရယ်(လ်) ကုမ္ပဏီ လီမိတက် မှ CMP စနစ်ဖြင့် အထည်ချုပ် လုပ်ငန်း လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်း ကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော မြန်မာ အက်ပရယ်(လ်) ကုမ္ပဏီ လီမိတက် (Myanmar Apparel Co., Ltd.) မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ ခွင့်ပြုမိန့် ရရှိရေးအတွက် CMP လက်ခံစား လုပ်ငန်းများ စိစစ်ရေး ကော်မတီမှ စိစစ်ထောက်ခံ တင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို (၂၀-၁၁-၂၀၀၂)နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ (၃၈/၂၀၀၂) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ယင်းအစည်းအဝေးမှ လုပ်ငန်းဆောင်ရွက်ရန် မူအားဖြင့် သဘောတူပြီး၊ ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ ဆက်လက် တင်ပြရန် ဆုံးဖြတ်ချက်အရ တင်ပြခြင်း ဖြစ်ပါသည်။ အဆိုပြုချက် ကို နောက်ဆက်တွဲ(၁) အဖြစ် တင်ပြထားပါသည်။

၂။ လုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ စုစုပေါင်း ကျပ် (၄၀.၅၀)သန်း ဖြစ်ပါသည်။ ယင်းတွင် ငွေသား ကျပ် (၀.၅၀)သန်း၊ မြေတန်ဖိုး ကျပ်(၁၆.၀၀)သန်း၊ အဆောက်အဦ တန်ဖိုး ကျပ် (၁၅.၀၀)သန်း၊ စက်ပစ္စည်း ကိရိယာ တန်ဖိုး ကျပ် (၈.၇၈)သန်းနှင့် ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်း တန်ဖိုး ကျပ် (၀.၂၂) သန်း ထည့်ဝင် ရင်းနှီး ထားခြင်းဖြစ်ပါသည်။ စက်ပစ္စည်းကိရိယာများကို ပြည်တွင်းမှ ဝယ်ယူအသုံးပြုထားပါသည်။

၃။ ယင်းလုပ်ငန်းကို မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနထံမှ ဦးတင့်လွင်၊ ဦးရှိုးဆွေ အမည်တို့ဖြင့် အသုံးပြုခွင့် ရရှိထားသော မြေကွက်အမှတ် (၃၅/ ၃၆-အေ)၊ ဖန်းမော်အတွင်းဝန်လမ်း၊ စက်မှုဇုန်(၃)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းရှိ မြေ (၂.၇၃၃)ဧက (၁၁၀၆၀.၀၇ စတုရန်း မီတာ) ပေါ်တွင် အဆောက်အဦ ဆောက်လုပ်၍ လုပ်ငန်း ဆောင်ရွက်လျက်ရှိပါသည်။

၄။ လုပ်ငန်းမှ ထုတ်လုပ်မှု၏ (၉၉) ရာခိုင်နှုန်းကို CMP စနစ်အရ ပြည်ပသို့ တင်ပို့မည်ဖြစ်ပြီး၊ ကျန်ပယ်ထည် Reject (၁) ရာခိုင်နှုန်းအား ပြည်တွင်းတွင် ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ်ရှိ ထုတ်လုပ်မှုနှင့် ရောင်းဈေး နှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်–

| စဉ် | အမျိုးအမည် | ထုတ်လုပ်မှု (ဒါဇင်) | CMP ချုပ်ခ (US$/Doz) | ပြည်တွင်းရောင်း (ကျပ်/ဒါဇင်) |
|---|---|---|---|---|
| ၁။ | Jacket | ၃၀၀၀၀ | ၁၂.၀၀ | ၃၀၀၀၀ |
| ၂။ | Pants (Long) | ၁၅၀၀၀ | ၇.၂၀ | ၁၆၂၀၀ |

၅။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့်ပုံမှန်နှစ်တွင် ရရှိမည့်ဝင်ငွေနှင့် အသုံးစရိတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်–

(ကျပ်သန်း)

| | | ပြည်တွင်း | နိုင်ငံခြား | စုစုပေါင်း |
|---|---|---|---|---|
| (က) | ဝင်ငွေ | ၁၁.၄၃ | ၂.၇၈ | ၁၄.၂၁ |
| (ခ) | အသုံးစရိတ် | ၇.၇၀ | ၀.၉၀ | ၈.၆၀ |
| (ဂ) | အသားတင်အမြတ် | ၃.၇၃ | ၁.၈၈ | ၅.၆၁ |

၆။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၅)နှစ်ဖြစ်ပြီး၊ အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ (၁၄.၀၆)ရာခိုင်နှုန်း ဖြစ်ပါသည်။

၇။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်–

(က) ဝင်ငွေခွန် — ကျပ် ၁.၆၀ သန်း

အမေရိကန်ဒေါ်လာ ၀.၀၆ သန်း

(ခ) ကုန်သွယ်လုပ်ငန်းခွန် — ကျပ် ၁.၀၄ သန်း

၈။ လုပ်ငန်းတွင် ပြည်တွင်းမှ ဝန်ထမ်း(၅၉၇)ဦး နှင့် ပြည်ပမှ ဝန်ထမ်း (၃)ဦး ခန့်ထားမည် ဖြစ်ပါသည်။

၉။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် လျှပ်စစ်စွမ်းအားဝန်ကြီးဌာနသို့ သဘောထား တောင်းခံခဲ့ရာ မြန်မာ့လျှပ်စစ်ဓါတ်အားလုပ်ငန်းမှ အဆိုပါလုပ်ငန်းမှာ လုပ်ငန်းသစ် မဟုတ်ဘဲ လည်ပတ်နေသော စက်ရုံဖြစ်၍ လျှပ်စစ်ဓါတ်အား ရရှိသုံးစွဲလျက်ရှိပါကြောင်းနှင့် ဆက်လက်ဓါတ်အားပေးနိုင်ပါကြောင်း ပြန်ကြားလာပါသည်။

၁၀။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး၊ နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ မြေယာနှင့် ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ်ပြဌာန်းမည့် စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာ ဆောင်ရွက်မည်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင် ညစ်ညမ်းမှု နှင့် မီးဘေးအန္တရာယ်များ မဖြစ်ပွားစေရန်

လိုအပ်သော အစီအမံများ၊ ကြိုတင်ကာကွယ်မှုများ ပြုလုပ်ထားမည်ဖြစ်ကြောင်းနှင့် CMP ချုပ်ခရငွေများကို သတ်မှတ်ချက်များနှင့်အညီ တရားဝင် ခွင့်ပြုထားသည့် ငွေလဲလှယ်ရေး ဌာနများတွင် ကျပ်ငွေဖြင့် လဲလှယ်ပြီး လုပ်အားခများပေးဆောင်မည် ဖြစ်ကြောင်း ဝန်ခံကတိများပြုထားပါသည်။

၁၁။ ကုမ္ပဏီ မှ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ် ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။

၁၂။ ဆုံးဖြတ်ရန်အချက်။

(က) မြန်မာအက်ပရယ်(လ်)ကုမ္ပဏီ လီမိတက် မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်းကို ခွင့်ပြုရန် သဘောတူ–မတူ။

(ခ) လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် သဘောတူပါက မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် သဘောတူ–မတူ။

(ဂ) မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ အရ စီးပွားဖြစ်လုပ်ငန်း စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း (၃)နှစ်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ပေးရာတွင် CMP လက်ခ စား လုပ်ငန်းများ စိစစ်ရေးကော်မတီမှ ထောက်ခံတင်ပြသည့် အလားတူ CMP လုပ်ငန်း ဟောင်းများ နည်းတူ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် မှ တရားဝင် ခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှ စ၍ ခံစား ခွင့်ပြုရန် သဘောတူ–မတူ။

၁၃။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ ထောက်ခံချက်။
ကုန်သွယ်မှု မူဝါဒကောင်စီ ၏ ဆုံးဖြတ်ချက်ကို နာခံပါမည်။

ဥက္ကဋ္ဌ (ကိုယ်စား)
(ဗိုလ်မှူးချုပ်ပြည်စုံ၊ အဖွဲ့ဝင်)
ဝန်ကြီး၊ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန

ကုန်သွယ်မှု မူဝါဒကောင်စီ ။

ကုမ္ပဏီ ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာ စာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များ၏ အမည် | ဒါရိုက်တာ/အစုရှင်များ၏ လိပ်စာ |
|---|---|---|---|
| ၁။ | မြန်မာအက်ပရယ်(လ်) ကုမ္ပဏီ လီမိတက် (Myanmar Apparel Co., Ltd.) | ၁။ ဦးရှိုးဆွေ (ဒါရိုက်တာ) | အမှတ်-(၅၁၉)၊ သိမ်ဖြူလမ်း၊ မင်္ဂလာတောင်ညွန့်မြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၂။ ဦးတင့်လွင်(ခ) ချန်းချန်း (ဒါရိုက်တာ) | အမှတ်-(၅၉-က)၊ ဗိုလ်ရာညွန့်လမ်း၊ ဒဂုံမြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၃။ ဦးစောကျော်လင်း (မန်နေဂျာ) | အမှတ်-(၅၁၉)၊ သိမ်ဖြူလမ်း၊ မင်္ဂလာတောင်ညွန့်မြို့နယ်၊ ရန်ကုန်မြို့။ |

၃၃၄၃
8/11

R.၇၇၇
၇/၁၁

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

# မြန်မာ့လျှပ်စစ်ဓာတ်အားလုပ်ငန်း

စာအမှတ်၊ ၃၈၂/ အသဖ(ထ)ရင်းနှီးမြှုပ်နှံမှု/၂၀၀၂။
ရက်စွဲ ၊ ၂၀၀၂ ခုနှစ်၊ နိုဝင်ဘာလ( ၆ )ရက်။

အကြောင်းအရာ။ ။သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ။

ရည်ညွှန်းချက် ။ ။မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃၀-၁၀-၂၀၀၂နေ့စွဲပါ စာအမှတ် ရက-၁/၀
-သဘောထား/၂၀၀၂(၃၂၄၇-င)။

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေအရ လုပ်ငန်းဆောင်ရွက်ခွင့် အဆိုပြုချက် ( ၁၂ ) ခုနှင့်ပတ်သက်၍ ရည်ညွှန်းစာဖြင့် လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၏ သဘောထားမှတ်ချက် တောင်းခံလာပါသည်။

၂။ အမှတ်စဉ် (၁) မှ ( ၁၁ ) အထိလုပ်ငန်း ( ၁၁ ) ခုမှာ လုပ်ငန်းသစ်များ မဟုတ်ဘဲ၊ တည်ဆောက်ပြီး လည်ပတ်နေသော စက်ရုံများဖြစ်၍ လျှပ်စစ်ဓာတ်အား ရရှိသုံးစွဲလျှက်ရှိပါသည်။ ဆက်လက်ဓာတ်အားပေးနိုင်ပါသည်။

အမှတ်စဉ်(၁၂)လုပ်ငန်းသစ်အားလည်း ဓာတ်အားဆက်သွယ်ပေးနိုင်ပါသည်။

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ဦးဆောင်ညွှန်ကြားရေးမှူး ( )
(ဒေါက်တာစန်းဦး-အင်ဂျင်နီယာချုပ် )

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ လုပ်ငန်းဆောင်ရွက်ခွင့် တင်ပြလာသည့် အဆိုပြုချက်များ

| စဉ် | ကုမ္ပဏီအမည်နှင့် အဆိုပြုသူအမည် | လုပ်ငန်းအမျိုးအစား | ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ | လျှပ်စစ်ဓာတ်အား လိုအပ်ချက် | လျှပ်စစ်ဓာတ်အားလက်ရှိသုံးစွဲနေမှု | မှတ်ချက် |
|---|---|---|---|---|---|---|
| ၁။ | မြန်မာအက်ပရယ်(လ်) ကုမ္ပဏီလီမိတက် ဦးရိုးဆွေ | CMP စနစ်ဖြင့် ဆွယ်တာများ ထုတ်လုပ်ခြင်း | လှိုင်သာယာမြို့နယ်၊ စက်မှုဇုန် (၄)၊ ကျန်စစ်သားလမ်း၊ အမှတ် (၁၅၆) | ၄၀၀- ကေဗွီအေ | ၃၁၅ ကေဗွီအေထရန်စဖော်မာ (၂) လုံး တပ်ဆင်ဓာတ်အားသုံးစွဲနေပါသည်။ | |
| ၂။ | မြန်မာအက်ပရယ်(လ်) ကုမ္ပဏီလီမိတက် ဦးတင့်လွင်(ခ) ချန်းချန်း | CMP စနစ်ဖြင့် Jacket,Pants (Long)များထုတ်လုပ်ခြင်း | လှိုင်သာယာမြို့နယ်၊ စက်မှုဇုန် (၃)၊ ဗန်းမော်အတွင်းဝန်လမ်း၊ မြေကွက် အမှတ် ၃၅၊ ၃၆ - အေ | ၄၀၀- ကေဗွီအေ | ၅၀၀ ကေဗွီအေထရန်စဖော်မာ (၂) လုံး တပ်ဆင်ဓာတ်အားသုံးစွဲနေပါသည်။ | |
| ၃။ | ပစိဖိတ် စကားမန်ညျ ဖက်ရှားရင်းကုမ္ပဏီ လီမိတက် ဦးအောင်မြင့် | CMP စနစ်ဖြင့် အထည်ချုပ် | လှိုင်မြို့နယ်၊(၁၂) ရပ်ကွက်၊အင်းစိန်လမ်းနှင့် အနောက်ပါရမီလမ်းထောင့်၊ တပ်မတော်ချည်မျှင်နှင့် အထည်စက်ရုံ(သမိုင်း) | ၈၄၄- ကေဗွီအေ | သီးခြားထရန်စဖော်မာ မရှိပါ။ တပ်မတော်ချည်မျှင်နှင့်အထည်စက်ရုံ (သမိုင်း)၏ ၆.၆/၀.၄ ကေဗွီ ၇၅၀ ကေဗွီအေ ထရန်စဖော်မာမှ ဓာတ်အားဆက်သွယ်သုံးစွဲပါသည်။ | ၃သွင်နှကြိုး၁၀၀/၅အင်ပီယာမီတာဖြင့်(၁၁၀)ကီလိုဝပ် သုံးစွဲနေပါသည်။ |
| ၄။ | လမ်းသစ်စက်မှုလုပ်ငန်းများ လီမိတက် ဦးယန်ချင်ယူ | CMP စနစ်ဖြင့် ရှူးဖိနပ်များ ထုတ်လုပ်ခြင်း | လှိုင်သာယာမြို့နယ်၊ စက်မှုဇုန် (၄)၊ ကျန်စစ်သားလမ်း၊ အမှတ် ၁၈၀ (ခ) | ၂၅၀- ကေဗွီအေ | ၅၀၀ ကေဗွီအေထရန်စဖော်မာ(၁)လုံး တပ်ဆင်ဓာတ်အားသုံးစွဲနေပါသည်။ | |
| ၅။ | အဲဗားနိုင်ဘာ အင်ဒတ်(စ်) ထရီကုမ္ပဏီလီမိတက် ဦးအောင်ကြိုး | CMP စနစ်ဖြင့် အထည်ချုပ် | လှိုင်သာယာမြို့နယ်၊ စက်မှုဇုန် (၁)၊ တွင်းသင်တိုက်ဝန် ဦးထွန်းညိုလမ်း အမှတ် (၁၅၁) | ၄၀၀- ကေဗွီအေ | ၅၀၀ ကေဗွီအေထရန်စဖော်မာ(၁)လုံး တပ်ဆင်ဓာတ်အားသုံးစွဲနေပါသည်။ | |
| ၆။ | နှင်းဆီနီ အထွေထွေ ရောင်းဝယ်ရေးသမဝါယာမ အသင်းလီမိတက် ဦးထင်လင်း | CMP စနစ်ဖြင့် အထည်ချုပ် | ရွှေပြည်သာမြို့နယ်၊ စက်မှုဒေသ၊ ချယ်ရီလမ်း၊ မြေတိုင်းရပ်ကွက် အမှတ်(၄၂)၊ မြေကွက် အမှတ် (၈၁) | ၃၀၀- ကေဗွီအေ | သီးခြားထရန်စဖော်မာ မရှိပါ။ ရပ်ကွက် ၅၀၀ ကေဗွီအေ ထရန်စဖော်မာမှ ဓာတ်အားဆက်သွယ်သုံးစွဲပါသည်။ | ၃သွင်နှကြိုး(၂၀/ ၁၀၀)အင်ပီယာမီတာ (မီတာအမှတ် XN-၃၁၇၄)ဖြင့်(၁၀)ကီလိုဝပ်ကိုင်း၊ ၃သွင်နှကြိုး (၅၀/ ၁၀၀)အင်ပီယာမီတာ(မီတာအမှတ်XN-၂၈၆၅၂) ဖြင့်(၃၀)ကီလိုဝပ်ကိုင်းသုံးစွဲခွင့်ပြုထားပြီးဖြစ်ပါသည်။ |

